ကန့်သတ်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold AYA Motors International Group Co.,Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Gold AYA Motors International Group Co., Ltd.<br>- Mr.Li Jifeng (Chinese) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Shining Star International Holdings Ltd. (Hong Kong) ၆၀%<br>- Mr.Qian Haifang (Chinese) ၂၀%<br>- ဦးရဲထွဋ်လင်း (မြန်မာ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-ဘီ-၁-၁၊ မြေတိုင်း ရပ်ကွက် အမှတ်-စက်မှုနယ်မြေ၊ ဇုန်-၂-စီ၊ မြို့သာစက်မှု ဥယျာဉ်မြို့တော်၊ ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - မန္တလေးမြို့သာစက်မှုဖွံ့ဖြိုးတိုးတက်ရေးအများပိုင်ကုမ္ပဏီလီမိတက် |
| | မြေအကျယ်အဝန်း | - ၂၀.၁ ဧက (၈၁,၃၄၁.၂၄၅ စတုရန်းမီတာ) |
| | ဆောက်လုပ်မည့်အဆောက်အဦ အရေအတွက် | - တစ်ထပ်အဆောက်အဦ ၁လုံး (New Factory)<br>- လေးထပ်အဆောက်အဦ ၁လုံး (Accommodation and Canteen)<br>- သုံးထပ်အဆောက်အဦ ၁လုံး (Office and Showroom)<br>**စုစုပေါင်း ၃ လုံး** |
| | နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခ | - US$ ၂,၇၆၅,၆၀၂.၃၃<br>(တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၃၄ နှုန်း) |
| | မြေ/အဆောက်အအုံ ငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ကနဦးနှစ်၅၀ (သက်တမ်းတိုး ၁၀နှစ် ၂ကြိမ်) |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - အမေရိကန်ဒေါ်လာ ၁၅.၃၄ သန်း |

| | နိုင်ငံခြား (၈၀%) | မြန်မာ (၂၀%) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၅ | - | ၀.၁၅ |
| စက်ပစ္စည်းကိရိယာစာရင်း (ပြည်ပ) | ၁.၃၅ | - | ၁.၃၅ |
| စက်ကိရိယာနှင့်ပရိဘောဂစာရင်း (ပြည်ပ) | ၂.၂၂ | - | ၂.၂၂ |

ကန့်သတ်

| | | | | |
|---|---|---|---|---|
| | စက်ကိရိယာနှင့်ပရိဘောဂ စာရင်း(ပြည်တွင်း) | ၀.၃၂ | ၀.၀၂ | ၀.၃၄ |
| | ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစာရင်း(ပြည်ပ) | ၆.၄၂ | - | ၆.၄၂ |
| | ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစာရင်း(ပြည်တွင်း) | ၁.၁၆ | - | ၁.၁၆ |
| | လျှပ်စစ်ပစ္စည်းစာရင်း (ပြည်တွင်း) | ၀.၅၇ | - | ၀.၅၇ |
| | မြေငှားရမ်းခ | - | ၂.၇၆ | ၂.၇၆ |
| | မော်တော်ယာဉ်စာရင်း | - | ၀.၀၃ | ၀.၀၃ |
| | အဆောက်အဦတန်ဖိုး | - | ၀.၃၂ | ၀.၃၂ |
| | **စုစုပေါင်း** | **၁၂.၁၉** | **၃.၁၃** | **၁၅.၃၂** |
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % | | |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | | | |
| | | **ရောင်းချမှုအရေအတွက် (စီးရေ)** | | **ရောင်းဈေးနှုန်း (US$/စီးရေ)** |
| | CHANGHE Q 35 SUV | ၄၈၀ | | ၂၀,၇၀၀ |
| | CHANGHE M 60MPV | ၁၆၀ | | ၂၃,၉၉၀ |
| | CHANGHE A6,SEDAN CAR | ၈၀ | | ၂၃,၉၉၀ |
| | DODA V8-MPV | ၄၀ | | ၃၈,၀၀၀ |
| | DODA K9-PICK-UP | ၄၀ | | ၃၅,၂၀၀ |
| | CHANGHE Q7-SUV | - | | ၂၆,၆၀၀ |
| | CHANGHE M20S MPV | ၂၀၀ | | ၁၂,၃၀၀ |
| ၉။ | အခြားတင်ပြချက် | | **ပြည်တွင်း** | **ပြည်ပ** |
| | | **အရေအတွက်** | ၁၁၀ ဦး | ၁၅ ဦး |
| | | **အမြင့်ဆုံးလစာ** | ကျပ် ၄၇၂,၅၀၀ | US$ ၃,၀၀၀ |
| | | **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၅,၂၅၀ | US$ ၁,၅၀၀ |
| | | - ၁ US$ = ၁၃၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။ | | |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ကျပ်ငွေအထောက်အထားအဖြစ် ဦးရဲထွဋ်လင်း အမည်ဖြင့် CB Bank, Co-operative Bank Ltd. တွင် ၁၆-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅၀,၀၁၀,၀၀၀.၀၀ ရှိကြောင်းတင်ပြထားပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် Hong Kong Shining Star Development and Construction Co., Ltd. အမည်ဖြင့် Industrial and Commercial Bank of China တွင် ၁၀-၁-၂၀၁၈ ရက်စွဲဖြင့် US$ ၉,၀၁၉,၇၇၁.၃၁ ရှိကြောင်း တင်ပြထားပါသည်။<br>- Shining Star International Holdings Ltd.၊ Mr.Qian Haifang နှင့် ဦးရဲထွဋ်လင်း တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)အား တင်ပြထားပါသည်။<br>- မော်တော်ယာဉ် ထုတ်လုပ်မှုအတွက် တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ BAIC International Development Co., Ltd. နှင့် ချုပ်ဆိုထားသော Vehicle Assembly Cooperation Agreement နှင့် Trademarks License Agreement (မိတ္တူ)များအားတင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2910 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၁)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ပထမနှစ်တွင် မော်တော်ယာဉ်အမျိုးအစား (၆)မျိုးထုတ်လုပ်မည်ဖြစ်ပြီး ဒုတိယနှစ်မှစ၍ CHANGHE Q7-SUV အမျိုးအစားအား တိုးချဲ့ထုတ်လုပ်မည် ဖြစ်ပါသည်။<br>- SKD သတ်မှတ်ချက်ပါ မော်တော်ယာဉ် ကုန်ကြမ်းအစိတ်အပိုင်း(၁၀)မျိုးအား တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Beijing Automobile Industries Corporation (BAIC) မှ တင်သွင်းမည်ဖြစ်ပြီး DODA နှင့် CHANGHE အမှတ်တံဆိပ်ဖြင့် ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်(၇)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD သတ်မှတ်ချက်ပါပစ္စည်းအုပ်စု(၁၀)မျိုးဖြင့်တင်သွင်းထုတ်လုပ်သွားမည်ဖြစ်ပါသည်။ |

| နှစ်အလိုက် ပြည်တွင်းနှင့် ပြည်ပတို့မှ ကုန်ကြမ်းရယူမည့် အစီအစဉ် | | | |
|---|---|---|---|
| နှစ်အလိုက် | အမျိုးအစား | ပြည်ပ | ပြည်တွင်း |
| ပထမနှစ် မှ တတိယနှစ် | SKD-2 အစိတ်အပိုင်းအားလုံး | ၁၀၀% | - |
| စတုတ္ထနှစ် | Battery & Tyre | ၉၆.၂၀% | ၃.၈၀% |
| ပဉ္စမနှစ် | 6 pieces of white body Assembly | ၇၆% | ၂၄% |
| ဆဋ္ဌမနှစ် | Floor Welding Assembly | ၆၅% | ၃၅% |
| သတ္တမနှစ် | Roof Welding Assembly | ၆၁.၅၀% | ၃၈.၅၀% |
| အဋ္ဌမနှစ် | Left and right side wall welding Assembly | ၅၁% | ၄၉% |
| နဝမနှစ် | Left and right side door welding Assembly | ၃၈% | ၆၂% |
| ဒသမနှစ် | Electrostatic coating complete painting system | ၁၈.၅၀% | ၈၁.၅၀% |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက- ၃/ခ-၀၀၉/၂၀၁၈( ၀၁၉ )

ရက်စွဲ၊၂၀၁၈ ခုနှစ် မတ်လ ၂၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold AYA Motors International Group Co.,Ltd. တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Shining Star International Holdings Ltd. မှ (၆၀%)၊ Mr.Qian Haifang မှ(၂၀%) နှင့် မြန်မာနိုင်ငံရှိ ဦးရဲထွဋ်လင်းမှ (၂၀%) တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold AYA Motors International Group Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်- ဘီ-၁-၁၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုနယ်မြေ၊ ဇုန်-၂-စီ၊ မြို့သာစက်မှုဥယျာဉ်မြို့တော်၊ ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၂၀.၁ ဧက (၈၁,၃၄၁.၂၄၅ စတုရန်းမီတာ)တွင် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် မန္တလေးမြို့သာ စက်မှုဖွံ့ဖြိုးတိုးတက်ရေး အများပိုင်ကုမ္ပဏီလီမိတက်နှင့် Gold AYA Motors International Group Co., Ltd. တို့ချုပ်ထားသည့် ငှားရမ်းခြင်းသဘောတူစာချုပ်၊ မြေဆိုင်ရာအထောက်အထားများ(မိတ္တူ)၊ ဖက်စပ်သဘောတူစာချုပ်(မူကြမ်း)နှင့်ထုတ်လုပ်မည့်မော်တော်ကား နမူနာဓာတ်ပုံများအားတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပါသည်။စုစုပေါင်းမြေ၂၀.၁ဧက (၈၁,၃၄၁.၂၄၅ စတုရန်းမီတာ)အား ငှားရမ်း၍ နှစ်စဉ်မြေနှင့်အဆောက်အဦ ငှားရမ်းခမှာ US$ ၂,၇၆၅,၆၀၂.၃၃ ဖြစ်ပြီး (၁) နှစ် တစ်စတုရန်းမီတာလျှင် US$ ၃၄ နှုန်းဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁နှစ် ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ US$ ၁၅.၃၄ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| | နိုင်ငံခြား (၈၀%) | မြန်မာ (၂၀%) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|
| ငွေသား | ၀.၁၅ | - | ၀.၁၅ |
| စက်ပစ္စည်းကိရိယာစာရင်း (ပြည်ပ) | ၁.၃၅ | - | ၁.၃၅ |

| | | | |
|---|---|---|---|
| စက်ကိရိယာနှင့်ပရိဘောဂစာရင်း (ပြည်ပ) | ၂.၂၂ | - | ၂.၂၂ |
| စက်ကိရိယာနှင့်ပရိဘောဂစာရင်း(ပြည်တွင်း) | ၀.၃၂ | ၀.၀၂ | ၀.၃၄ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းစာရင်း (ပြည်ပ) | ၆.၄၂ | - | ၆.၄၂ |
| ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းစာရင်း (ပြည်တွင်း) | ၁.၁၆ | - | ၁.၁၆ |
| လျှပ်စစ်ပစ္စည်းစာရင်း(ပြည်တွင်း) | ၀.၅၇ | - | ၀.၅၇ |
| မြေငှားရမ်းခ | - | ၂.၇၆ | ၂.၇၆ |
| မော်တော်ယာဉ်စာရင်း | - | ၀.၀၃ | ၀.၀၃ |
| အဆောက်အဦတန်ဖိုး | - | ၀.၃၂ | ၀.၃၂ |
| **စုစုပေါင်း** | **၁၂.၁၉** | **၃.၁၃** | **၁၅.၃၂** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၁၀ ဦးနှင့် ပြည်ပ ဝန်ထမ်း ၁၅ ဦးခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၅၅,၂၅၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၄၇၂,၅၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁,၅၀၀ နှင့် အမြင့်ဆုံးလစာ US$ ၃,၀၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှထွက်ရှိသော မော်တော်ယာဉ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပထမနှစ်တွင် ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ရောင်းချမှု အရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (US$/စီးရေ) |
|---|---|---|
| CHANGHE Q 35 SUV | ၄၈၀ | ၂၁,၇၀၀ |
| CHANGHE M 60MPV | ၁၆၀ | ၂၃,၉၉၀ |
| CHANGHE A6,SEDAN CAR | ၈၀ | ၂၃,၉၉၀ |
| DODA V8-MPV | ၄၀ | ၃၈,၀၀၀ |
| DODA K9-PICK-UP | ၄၀ | ၃၅,၂၀၀ |
| CHANGHE Q7-SUV | - | ၂၆,၆၀၀ |
| CHANGHE M20S MPV | ၂၀၀ | ၁၂,၃၀၀ |

၈။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၉။ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက် အရ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနနှင့် စီးပွားရေးနှင့်ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာနများသို့ သဘောထားမှတ်ချက်တောင်းခံထားပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် Hong Kong Shining Star Development and Construction Co., Ltd. အမည်ဖြင့် Industrial and Commercial Bank of China တွင် ၁၀-၁-၂၀၁၈ ရက်စွဲဖြင့် US$ ၉,၀၁၉,၇၇၀.၃၁ နှင့် ဦးရဲထွဋ်လင်း အမည်ဖြင့် CB Bank, Co-operative Bank Ltd. တွင် ၁၆-၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၅၀,၀၁၀,၀၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၁။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ဥပဒေပုဒ်မ ၃၆(ဂ)အရ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း EIA ဆောင်ရွက်ရမည် ဖြစ်ပါသဖြင့် ကော်မရှင်သို့ အဆိုပြုချက် တင်ပြရမည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများဇုန်(၁)တွင် ပါဝင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် မတ်လ ၅ ရက်နေ့တွင် ကျင်းပသော (၆/၂၀၁၈)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးအစည်းအဝေးတွင် အမှတ်(၁) အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာနမှ အဆိုပြုချက်တွင် တင်ပြထားသည့် SKD သတ်မှတ်ချက်ပါ မော်တော်ယာဉ် ကုန်ကြမ်းပစ္စည်းအစိတ်အပိုင်း (၁၀)မျိုးနှင့် အညီဆောင်ရွက်ရန် ဆွေးနွေးပြောကြားခဲ့ပါသည်။

(စ) SKD သတ်မှတ်ချက်ပါ မော်တော်ယာဉ် ကုန်ကြမ်းအစိတ် အပိုင်း(၁၀)မျိုးအား တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Beijing Automobile Industries Corporation (BAIC) မှ တင်သွင်း မည်ဖြစ်ပြီး DODA နှင့် CHANGHE အမှတ်တံဆိပ်ဖြင့် ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူးရောင်းချမည်ဖြစ်ပါသည်။

(ဆ) မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း နှင့်စပ်လျဉ်း၍ လုပ်ငန်း လိုအပ်ချက်အရ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနနှင့် စီးပွားရေးနှင့်ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာနများမှ သဘောထားမှတ်ချက်များ ပြည့်စုံစွာရရှိပြီးမှသာ ခွင့်ပြုမိန့်ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၂။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်Gold AYA Motors International Group Co.,Ltd.မှ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အရဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ( )
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၁၈၁ /၁၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၈ ရက်

M.177
28/2/18

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Gold AYA Motors International Group Co., Ltd. မှ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ အ-ထွေ/ ၂၀၁၈(၁၈၂)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Shining Star International Holding Ltd. မှ ၆၀%၊ Mr. Qian Haifang မှ ၂၀% နှင့် မြန်မာနိုင်ငံရှိ ဦးရဲထွဋ်လွင်းမှ ၂၀% အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold AYA Motors International Group Co., Ltd. တည်ထောင်ကာ မြေကွက်အမှတ်-ဘီ-၁-၁၊ မြေတိုင်းရပ်ကွက်အမှတ်- စက်မှုနယ်မြေ၊ ဇုန်- ၂(ဗီ)၊ မြို့သာစက်မှုဥယျာဉ်မြို့တော်၊ ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ ၂၀.၁ ဧက (၈၁,၃၄၁.၈၁ စတုရန်းမီတာ)ပေါ်တွင် မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ(၈၁,၃၄၁.၈၁ စတုရန်းမီတာ) ပေါ်တွင် ၂၉,၆၁၈ စတုရန်းပေ ရှိ Car Showroom & Office (၃) ထပ်အဆောက်အဦ (၁) လုံး၊ ၂၈,၆၄၄ စတုရန်းပေရှိ Accommodation & Canteen (၄) ထပ်အဆောက်အဦ (၁) လုံး၊ ၇၈,၂၉၆ စတုရန်းပေရှိ စက်ရုံ (၁) ထပ်အဆောက်အဦ (၁) လုံး၊ စုစုပေါင်းအဆောက်အဦ (၃) လုံးတည်ဆောက်ကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) မော်တော်ကားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မော်တော်ယာဉ်၏ဘော်ဒီပိုင်း၊ အင်ဂျင်ပိုင်း၊ ဂီယာပိုင်း၊ ဖရိန်ပိုင်းနှင့်အခြားအစိတ်အပိုင်းများကို ပြည်ပမှမှာယူတင်သွင်းပြီး၊ အချို့ပစ္စည်းများကို ပြည်တွင်းမှဝယ်ယူသုံးစွဲ၍ စက်ရုံ၌တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် (Q35, M60, H6, V8, K9, Q7, M20s) Model (၇) မျိုးအား ပထမနှစ်တွင် အစီးရေ (၂၀၀) အမေရိကန်ဒေါ်လာ (၂၁.၅၆) သန်း၊ (၁၀) နှစ်အတွင်းအစီး

ရေ (၄၅၀၀) အမေရိကန်ဒေါ်လာ (၈၉၄.၀၃) သန်းကို ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၃%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပ ဒေ၊ လုပ်ထုံး /လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Gold AYA Motors International Group Co., Ltd. မှ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်အမွှားများနှင့်ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင် လုပ်သားများတွင် မျက်စေ့နှင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိပြည်သူလူထုကို အနှောင့်အယှက် ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများနှင့် ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

(ဃ) ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများအသုံးပြုဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊

(င) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊စက်ယန္တရားများ အသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုတို့အားညစ်ညမ်းမှုများနှင့် အသံဆူညံမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက် မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Gold AYA Motors International Group Co., Ltd. မှ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်

ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါ သည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ် စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင် ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသား တင်အမြတ်ငွေ၏ ၃% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ် များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး လုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံ ကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း ရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံ စာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွား မည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦး စီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည် ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအ ပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင် ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြ ရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း

ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၇-၂၀၁၈(၃၃၂၈)
ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၃- ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၂.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၃ / အ - ထွေ / ၂၀၁၈ (၁၈၇)

၁။ Gold AYA Motors International Group Co.,Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်းမြို့နယ်၊ မြို့သာစက်မှုဥယျာဉ်မြို့တော်၊ ဇုန် - ၂ - စီ၊ မြေတိုင်းရပ်ကွက်အမှတ်၊ စက်မှုနယ်မြေ မြေကွက်အမှတ်( ဘီ - ၁ - ၁ )တွင် မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ဌာန၏ သဘောထားမှတ်ချက်အား ၁၃.၃.၂၀၁၈ ရက်နေ့နောက်ဆုံးထား၍ ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ ခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်။

(က) အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းအတွက် လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရပါမည်။

(ခ) ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ဆောင်ရွက်မည့်အစီအမံများကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ချမှတ်ဆောင်ရွက်ရန်နှင့် ယင်းအစီအမံအတွက် အမြတ်ငွေ၏ ၁ % သုံးစွဲသင့်ပါသည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ရန် ခွင့်ပြုမိန့်ရရှိပြီးပါက ယင်းလုပ်ငန်းကို ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရမည်။

(ဃ) မော်တော်ယာဉ်ထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာဥပဒေ၊ မော်တော်ယာဉ်ဆိုင်ရာမူဝါဒတို့နှင့်အညီ ဆောင်ရွက်ရပါမည်။

(င) Gold AYA Motors International Group Co.,Ltd.မှ ရင်းနှီးမြှုပ်နှံမှုတန်ဖိုး( 15.32 ) USD Million ဖြင့် မော်တော်ယာဉ်များအား လိုအပ်သည့် အစိတ်အပိုင်းများ တင်သွင်း၍ တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ပါသည်။

(စ) မော်တော်ယာဉ်အမျိုးအစား Model ( ၇ )မျိုး ထုတ်လုပ်မည်ဖြစ်ပြီး စက်ပစ္စည်းတန်ဖိုးမှာ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတန်ဖိုး၏ ( ၂၀ % ) ဖြစ်ပါသည်။

(ဆ) ဝန်ထမ်းအင်အား Local ( ၁၅ )ဦး၊ Foreign (Expert / Technical )(၁၁၀) ဦး၊ စုစုပေါင်းဝန်ထမ်း( ၁၂၅ )ဦးဖြင့် မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်းအလုပ်အကိုင် အခွင့်အလမ်းရရှိမှုနှင့်အတူ နည်းပညာလွှဲပြောင်းမှုများလည်း ရရှိရန် လိုအပ်ပါသည်။

(ဇ) Model ( ၇ )မျိုးအား တပ်ဆင်ထုတ်လုပ်ရာတွင် လိုအပ်သော Machinery & Equipment (၄၂)မျိုး၊ Factory Equipment & Fixture Construction Material Equipment & Fixture (၂၀)မျိုး၊ Construction Material (၁၆)မျိုး၊ Equipment & Fixture (၄၂)မျိုး၊ Construction Material (၃၃)မျိုးတို့အား ပြည်ပမှာတင်သွင်းမည်ဖြစ်ပါသည်။

(ဈ) ထုတ်လုပ်ပြီးသည့် မော်တော်ယာဉ်များအား စမ်းသပ်စစ်ဆေးရန် Testing Facilities များ လိုအပ်မည်ဖြစ်ပါသည်။

(ည) ထုတ်လုပ်မည့်မော်တော်ယာဉ် Model (၇)မျိုးအား ကုန်ကြမ်းအုပ်စု(၁၀)စု ဖြင့် တင်သွင်းထုတ်လုပ်မည်ဖြစ်၍ လက်ရှိတည်ဆဲ SKD ဥပဒေ စည်းမျဉ်းများ နှင့် ကိုက်ညီရန် လိုအပ်ပါသည်။

(ဋ) Trademarks License Agreement အား Gold AYA Motors International Group Co.,Ltd. နှင့် BAIC International Development Co.,Ltd. တို့ ချုပ်ဆိုဆောင်ရွက်မည်ဖြစ်ပြီး၊ တပ်ဆင်ထုတ်လုပ်မည့် Model (၇)မျိုးအတွက် DODA ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်မည်ဖြစ်သောကြောင့် သက်ဆိုင်ရာ ကုမ္ပဏီ၏ Approval စာရွက်စာတမ်းများနှင့် Authorization Letter ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။

(၄) Gold AYA Motors International Group Co.,Ltd. အမည်ဖြင့် Joint Venture Agreement (JVA) အား နိုင်ငံခြားသား(၃)ဦး ပါဝင်ဖွဲ့စည်းဆောင်ရွက်မည်ဖြစ်၍ တည်ဆဲစည်းမျဉ်းများနှင့်ကိုက်ညီသည့် JVA ဖြစ်ရန် လိုအပ်ပါသည်။

(၅) ပြည်တွင်း၌ တပ်ဆင်ထုတ်လုပ်မည့် မော်တော်ယာဉ်များဖြစ်သဖြင့် တည်ဆဲစည်းမျဉ်းများနှင့် လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး၊ ပစ္စည်းအရည်အသွေးပိုင်းဆိုင်ရာနှင့်ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများကို အလေးထားဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Gold AYA Motors International Group Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံခရိုင်၊ ငါန်းဇွန်းမြို့နယ်၊ မြို့သစ် စက်မှုဥယျာဉ်မြို့တော်၊ ဇုန် - ၂ - စီ၊ မြေတိုင်းရပ်ကွက်အမှတ်၊ စက်မှုနယ်မြေ မြေကွက်အမှတ် ( ဘီ - ၁ - ၁ )တွင် မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာန အနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်( ၁ )အကြီးစားစက်မှုလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

M.230
16/3/18

စာအမှတ်၊ စက - ၁၅ / ၄ - ၁၂ / ၂၀၁၈ ( ၂၇ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ ။ သဘောထားမှတ်ချက် ပြန်ကြားပေးပို့ခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၂၂-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၃/ အ - ထွေ/ ၂၀၁၈ (၀၈၆)

၁။ တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Shining Star International Holdings Ltd မှ (၆၀%)၊ Mr.Qian Haifang မှ (၂၀%) နှင့် မြန်မာနိုင်ငံရှိ ဦးရဲထွဋ်လင်းမှ (၂၀%) တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold AYA Motors International Group Co.,Ltd တည်ထောင်ကာ မြို့သာစက်မှုဥယျာဉ်မြို့တော်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ(၂၀.၁)ဧကတွင် မော်တော်ယာဉ် ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Gold AYA Motors International Group Co.,Ltd မှ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ အကြောင်းကြားလာပါသည်။

၂။ အဆိုပါ Gold AYA Motors International Group Co.,Ltd သည် မြန်မာနိုင်ငံ၌ မော်တော်ယာဉ် ထုတ်လုပ်သည့်စက်ရုံတည်ဆောက်ပြီး ပြည်ပမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းဆောင်ရွက်မည်ဖြစ်ပါသည်။ Gold AYA Motors International Group Co.,Ltd သည် ပြည်ပမှ မော်တော်ယာဉ်အစိတ်အပိုင်းများအား SKD စနစ်ဖြင့် တင်သွင်းပြီး ပြည်တွင်း၌ တပ်ဆင်ထုတ်လုပ်မည်ဖြစ်၍ ထုတ်လုပ်မည့် မော်တော်ယာဉ်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) CHANGHE Q 35 SUV
(ခ) CHANGHE M 60 MPV
(ဂ) CHANGHE A 6 Sedan
(ဃ) CHANGHE Q 7 SUV
(င) CHANGHE M 20S MPV

(စ) DODA V8 MPV

(ဆ) DODA K9 Pick Up

၃။ ခေတ်နှင့်အညီ စဉ်ဆက်မပြတ်ဖွံ့ဖြိုးတိုးတက်နိုင်မည့် မော်တော်ယာဉ်ဆိုင်ရာ စက်မှုကဏ္ဍ တစ်ရပ်ပေါ်ထွန်းလာနိုင်ရေးနှင့် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်း၊ ပြည်တွင်း၌ အစိတ်အပိုင်းများ ထုတ်လုပ်ခြင်းလုပ်ငန်းများတွင် စနစ်တကျဆောင်ရွက်နိုင်ရန်၊ စံချိန်စံညွှန်းနှင့်အညီ အရည်အသွေးပြည့်မီမှု ဘေးကင်းလုံခြုံမှုရှိစေရန်၊ ဆက်စပ်လုပ်ငန်းဆိုင်ရာ စီးပွားရေးဝန်းကျင် ကောင်းများ ဖြစ်ပေါ်လာနိုင်ရေးနှင့် ပြည်ပသို့ ပြန်လည်တင်ပို့နိုင်သည်အထိ အမြောက်အများ ထုတ်လုပ်နိုင်ရန် ရည်ရွယ်ပြီး ရေးဆွဲလျှက်ရှိသည့် မော်တော်ယာဉ်ထုတ်လုပ်မှု ဖွံ့ဖြိုးတိုးတက်ရေး ဆိုင်ရာ ဥပဒေနှင့်အညီလိုက်နာ၍ ဆောင်ရွက်သင့်ပါကြောင်းနှင့် ထုတ်လုပ်ပြီးယာဉ်များ ပြည်ပသို့ ပြန်လည်တင်ပို့မည်ဆိုပါက Regional Value Content (RVC) တွက်ချက်မှုနှင့် Country of Origin သတ်မှတ်မှုကို ထည့်သွင်းစဉ်းစားသင့်ပါကြောင်း အကြံပြုလိုပါသည်။

၄။ သို့ဖြစ်ပါ၍ Gold AYA Motors International Group Co.,Ltd မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၈၅/၂၀၁၇) ဖြင့် ထုတ်ပြန်ကြေညာခဲ့သည့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် SKD II စနစ်အရ တင်သွင်း ထုတ်လုပ်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း၊ ပြည်တွင်း၌ မော်တော်ယာဉ်ထုတ်လုပ်ခြင်းဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိခြင်း၊ နည်းပညာများ တိုးတက် ရရှိခြင်း၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုခြင်း၊ မြန်မာနိုင်ငံ၌ ခေတ်မီသည့် Automobile Industry ပေါ်ပေါက်စေရန်အတွက် အထောက်အကူပြုခြင်းစသည့်အကျိုးကျေးဇူးများ ရရှိစေနိုင်သဖြင့် သက်ဆိုင်သည့်ဌာနများ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့် ဆောင်ရွက်ခြင်းဖြစ်ပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )
( ရန်နိုင်ထွန်း၊ ညွှန်ကြားရေးမှူးချုပ် )

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/မလ(ကညန)/၂၀၁၈( ၄၉၃ )

ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၂)ရက်စွဲပါ စာအမှတ်၊ မရက-၃/ အ-ထွေ/ ၂၀၁၈ (၀၈၅)

တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ Shining Star International Holdings Ltd. မှ (၆၀%)၊ Mr.Qian Haifang မှ (၂၀%) နှင့် မြန်မာနိုင်ငံရှိ ဦးရဲထွဋ်လင်းမှ (၂၀%)တို့သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Gold AYA Motors International Group Co.,Ltd တည်ထောင်ကာ မြေကွက်အမှတ်-ဘီ-၁-၁၊ မြေတိုင်းရပ်ကွက်အမှတ်-စက်မှုနယ်မြေ၊ ဇုန်-၂-စီ၊ မြို့သာ စက်မှုဥယျာဉ်မြို့တော်၊ ငါန်းဇွန်မြို့နယ်၊ မြင်းခြံခရိုင်၊ မန္တလေးတိုင်းဒေသကြီးရှိ မြေဧရိယာ (၂၀.၁)ဧကတွင် မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

၁၅ /၃ /၂၀၁၈

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

(သူရအောင်မျိုးမြင့်-ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ။

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ



# 北京汽车国际发展有限公司
BAIC INTERNATIONAL DEVELOPMENT CO.,LTD.

## Notice letter

To the chairman of Myanmar Investment Commission

Dear Sir

We here official declare that we have Aung Gabar Motor Services Co.,Ltd and Gold Aya Motors International Group Co.,Ltd as our cooperators in Myanmar Market.

We authorized Aung Gabar Motor Services Co.,Ltd manufacture and distribute the products under the brand of BAIC according to the agreement between Aung Gabar Motor Services Co.,Ltd and us.

We authorized Gold Aya Motors International Group Co.,Ltd manufacture and distribute the products under the brand of DODA and CHANGHE according to the agreement between Gold Aya Motors International Group Co.,Ltd and us.

Aung Gabar Motor Services Co.,Ltd and Gold Aya Motors International Group Co.,Ltd has different Brand and Products, their products has different market positions and target customer.

BAIC will work close with our partners to provide best products and service to Myanmar customer.

BAIC International Development Co., Ltd

2018-3-16




北京市朝阳区东三环华威里 10 号鹏龙大厦 邮编：100021
电话：+86-10-56630000 传真：+86-10-56630000
网址：www.baicintl.com

No.10 Huawei Li, Chaoyang District, Beijing, 100021, China
Tel : +86-10-56630000 Fax: +86-10-56630000
http://www.baicintl.com